၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်[illegible] သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်နိုင်ခံ့သော [illegible]ဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီး[illegible] အိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်းအဆိုပါ[illegible]ကို မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါ မြေကွက်ပေါ် တွင် ဆောက်[illegible]နေအိမ်[illegible]အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့်အဆောက်အအုံ၊ထိုအဆောက်အအုံနှင့်အမြဲတွဲကပ်ထားသောပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကိုအငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၀ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေ ကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို

(ဃ) ဤစာချုပ်အရ အငှားချထားသည့်မြေသည် စက်မှုလုပ်ငန်းကိစ္စအတွက်မဆိုင်၊ အဆိုပါမြေပေါ်၌ စက်ရုံလုပ်ငန်းမှ ထွက်ရှိသည့် [illegible] ကောင်း၊ အမြင်အရ [illegible] ကောင်း၊ ပါတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေအောင် ဆောင်ရွက်ရန်နှင့် ပါတ်ဝန်းကျင် ထိခိုက်မှုရှိကြောင်း စိစစ်တွေ့ရှိပါက ဤစာချုပ်ကိုပယ်ဖျက်ပြီး အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသော အဆောက်အအုံအားလုံးကို သိမ်းယူနိုင်သည်။

ညွှန်ကြားရေးမှူးချုပ်

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၉ )ခုနှစ်၊ ဂျူလိုင် လ၊ ( ၁ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံး သည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄– အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့်

ရန်ကုန် မြို့တော်

အိုးအိမ်ပုံစံ
အတိစံ - ၂၂

၁၀/၁၁ရေ ______ မြို့နယ်၊ လူနေရပ်ကွက် SEIN DIAMOND INDUSTRIAL & COMMERCIAL CENTER

မြေတိုင်းရပ်ကွက်အမှတ် ၁၁၁-B မှ မြေကွက်အမှတ် ၂ ၏ မြေပုံ

၁လက်မလျှင် ၁၀၀ ပေ စကေး




ကျောက်တံတား ၈.၂.၂၀၁၇ ရက်နေ့ပါ ... ရက်စွဲပါ ... /မြေစီမံ-၂၀၁၇ (၂၆၆၁) ... အမှတ် ၄၃၉/၂၀၁၇ ... မှတ်သားသည်။

ဧရိယာ

စတုရန်းပေ ၇၀၄၀၀

ဧက ၁.၆၁၆

မြေတိုင်း (၄)

မြေတိုင်း (၃)

မြေတိုင်း (၂)

၁၀.၂.၂၀၁၇

10.2.17

ဒုတိယညွှန်ကြားရေးမှူး
မြေတိုင်းနှင့်ခွဲ
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ဌာနမှူး(မြေတိုင်း)

မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့် အဆိုပါ ဦးတင်လတ် သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုန်းကျော်

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီး အောင်ဝင်း

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဒုတိယဗိုလ်မှူးကြီး ထင်အောင်ကျော် တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည် ။

ညွှန်ကြားရေးမှူး

**အသိသက်သေ ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးကျော်ဝင်း

အငှားစာချုပ်ရသူ ဦးတင်လတ် က
လက်မှတ်ရေးထိုးသည် ။

အငှားစာချုပ်ရသူ

**အသိသက်သေ ။**

၁။ ဒေါ်နှင်းဝတ်ရည်မြင့် ၁၂/ဥကမ(နိုင်) ၀၁၁၄၂၅ ၃၄, ၄လမ်း ၈ရပ်ကွက် တ/ဥက္ကလာ

၂။

ဦးစီးအရာရှိ

မြေနှင့်အခွန်ဌာနခွဲ (ရုံးချုပ်)

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

လက်ထောက်ညွှန်ကြားရေးမှူး

မြေနှင့်အခွန်ဌာနခွဲ (ရုံးချုပ်)

အထက်တွင် ရည်ညွှန်းထားသည့် ယာ

နေရပ်ကွက်အမှတ် ______ စက်မှု ______

မြေတိုင်းရပ်ကွက်အမှတ် ______ ၁၀၈ (ဘီ) ______

ရန်ကုန်မြို့ ______ ဒဂုံ (အရှေ့ပိုင်း) ______ မြို့နယ် ။

အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ______ ၆ ______

ဖြစ်သည် ။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ______ ၃၄၀′ ______ ပေ ၊ အနံ ______ ၆၂၀′ ______ ပေခန့်ရှိသော အလား အလာ

အရှေ့လားသော် ______ ဓနဗွက် ၆လမ်း မဂျီး ၊လမ်း ______

အနောက်လားသော် ______ ~~လမ်း~~ မြေကွက်အမှတ် (၃) ______

ဆောက်လုပ်ရေးဝန်ကြီးဌာန

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

| | | | |
|---|---|---|---|
| အမည် | ဦးတင်လတ် | တိုင်းဒေသကြီး/ပြည်နယ် | ရန်ကုန် |
| | | မြို့နယ် | ဒဂုံမြို့သစ် (အရှေ့ပိုင်း) |
| | | မြေတိုင်းရပ်ကွက်အမှတ် | ၁၀၈ - ၅ |
| | | လူနေရပ်ကွက်အမှတ် | စက်မှုဇုန် |
| နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်/ | ၁၂ / ဒဂမန (နိုင်) | မြေကွက်အမှတ် | ၃ |
| အမျိုးသားမှတ်ပုံတင်အမှတ် | ၀၄၅၂၀၀ | မြေကွက်တည်နေရာ | |
| မြေငှားစာချုပ်အမှတ် | | | |
| အမှုတွဲအမှတ်/နေ့စွဲ | ၈၇၇ / ၁၀၈ - ၆ (စက်မှု) ၈၂၉ . ၈ / ၂၀၁၃ | | |

၄+၁၅

HA . ၈ 001089

ဆောက်လုပ်ရေးဝန်ကြီးဌာန
တအမှတ်
နေ့စွဲ
မြေနှင့်အခွန်ဌာနခွဲ
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

# မြေငှားစာချုပ်

## မူရင်း

နေ့စွဲ၊ ၂၀၁၃ ခုနှစ်၊အောက်တိုဘာလ၊ ၁၀ ရက်

..............................အမှုတွဲအမှတ် ၈၇၅ / ၁၀၈-၉ (စက်မှု) / ...
၈၈၆ . ၈ / ၂၀၁၃

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် **"အငှားချထားသူ"** ဟုရည်ညွှန်းသည်။ **"အငှားချထားသူ"** ဆိုသည့် စကားရပ်တွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်းပါဝင်သည်။)

**နှင့်**

.....ရန်ကုန်..... တိုင်းဒေသကြီး/ပြည်နယ် ............မြို့နေ၊ ဦး ...အာမ်ဒို ဖါဂျယ်...... ၏ သား/သမီးဖြစ်သော ဦး/ဒေါ် ...ဂျင်လူဇော်........ နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂ / ရကသ (နိုင်) ဝ၄၅၂၀၀ (နောင်တွင် "အငှားစာချုပ်ရသူ" ဟုရည်ညွှန်းသည်။) တို့ ၁၃၇၅ ... ခုနှစ်၊ သီတင်းကျွတ် ..... လဆန်း/လပြည့်ကျော် ...၆... ရက်နေ့၊ ၂၀.၁၃.. ခုနှစ်၊ အောက်တိုဘာ ... လ၊ ၁၀ ရက်နေ့တွင်အောက်ပါအတိုင်း မြေငှားစာချုပ်ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့်လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါယေား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက်သွားလာနိုင်ခွင့်စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ် မြေအောက်ရှိ သတ္တုတွင်းများ၊ ဓါတ်သတ္တုပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်မိုင်းစသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်း၌မပါဝင်ချေ။ ထိုသို့ရှာဖွေတူးဖော် ရယူသယ်ဆောင်ရာ၌အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောင့်ယှက်ပျက်စီးစေခဲ့လျှင် အငှားစာချုပ်ရသူအား သင့်လျော်သောလျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့်စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်းအက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

**မိတ္တူမှန်ကန်ကြောင်း**

ထို့ကြောင့် ဤစာချုပ် ချုပ်ဆိုသည့် ...၁၀.၁၀.၂၀၁၃... နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ်ကာလအပိုင်းအခြားတွင်၊ ..၂၀၇၃.. ခုနှစ်၊ အောက်တိုဘာ ...လ၊ ...၉... ရက်နေ့၌ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါး နှစ်အတွင်းတွင် သုံးလပတ်အတွက် မြေငှားရမ်းခငွေ ကျပ် ...၂၃၉၅၃၃........
.......................................(ကျပ် ၂သိန်းသုံးသောင်းကိုးထောင့်ငါးရာ သုံးဆယ့်သုံး ... တိတိ)
ကို ဇန်နဝါရီလ၊ ဧပြီလ၊ ဇူလိုင်လနှင့် အောက်တိုဘာလများ၏ လဆန်း ( ၁ ) ရက်နေ့များတွင် ကြိုတင်ပေးဆောင်ရမည်။ အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြား၏ ဒုတိယ၊ တတိယ နှင့် စတုတ္ထ တစ်ဆယ့်ငါး နှစ်စီအတွက် အပိုဒ်(၃)တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည့်အပြင် မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ညွှန်ကြားချက်အမှတ် ၁/၉၃ ကို လိုက်နာရမည်၊

**မူရင်း**

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၂၀ ...၁၇......... ခုနှစ် အတွင်းတွင်ဖြစ်စေ၊ ထို့နောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါမြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက်မြေငှားခကို (သို့တည်းမဟုတ်) ၄င်းအစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယ လဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခမပြေကျန်ရှိနေလျှင်၊ သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင်ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် ဖျက်ကွက်လျှင်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါမြေငှားခကိုရယူရန် ချက်ချင်းအမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံချက်ကိုဖျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ၊ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကိုပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်တပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက်ပြုလုပ်သည်-

(က) အပိုဒ် ( ၂ ) အရ ဤစာချုပ်ကိုပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိသင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားစာချုပ်ရသူ၏ နောက်ဆုံးသိရှိရသော လိပ်စာတပ်ပြီး မှတ်ပုံတင်ပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသော နေရာတွင်ကပ်ထားနိုင်သည်။ အဆိုပါနို့တစ်စာကို ပြဆိုသည့် နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း၊ ပြုလုပ်ပြီးနောက် ရက်ပေါင်း (၆၀) အတွင်း အငှားစာချုပ်ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း၊ သို့တည်းမဟုတ် အဆိုပါ မြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည်အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ်အားလုံးနှင့်တကွ အဆိုပါညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြား ပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ် ခံချက်များအတိုင်း နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါ မြေကွက်နှင့်ပြန်လည်သိမ်းယူသည့် အချိန်တွင်ထိုမြေကွက်ပေါ်၌ တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြားအကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း၊ ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်တပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်စီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတပါး အဆိုပါမြေကွက်ပေါ်တွင်ဖြစ်စေ၊ အထဲတွင်ဖြစ်စေ၊ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏တန်ဖိုး ယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ်ပျက်စီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရ။

(ခ) အပိုဒ် (၂) အရ ဤစာချုပ်ကို ပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကို ပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါ မိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသော အဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲ တွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြား မကုန်မီ ( ၆ ) လအတွင်း ဖျက်သိမ်း သယ်ယူ ခန့်ခွဲနိုင်သည်၊ သို့ရာတွင် ထိုသို့သယ်ယူခြင်းကြောင့် အဆိုပါမြေကွက် ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကို မူလ အခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ...၂၀၁၈...........ခုနှစ်၊ ...စက်တင်ဘာ...........လ၊ ...၆..... ရက်နေ့မှစ၍ ပထမ တစ်ဆယ့်ငါး နှစ် ကုန်ဆုံးသောအခါ ဒုတိယ တစ်ဆယ့်ငါး နှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ဒုတိယ တစ်ဆယ့်ငါး နှစ်ကုန်ဆုံးသောအခါတတိယ တစ်ဆယ့်ငါး နှစ်အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရစည်းကြပ်သော သုံးလပါတ်မြေငှားခကိုလည်းကောင်း၊ တတိယ တစ်ဆယ့်ငါး နှစ် ကုန်ဆုံးသောအခါ စတုတ္ထ တစ်ဆယ့်ငါး နှစ်အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရစည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်၊ အကယ်၍ အထက်ပါ နည်းလမ်းအတိုင်း မြေငှားခကို ပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင် ပြဋ္ဌာန်း ထားသည့် နည်းလမ်းအတိုင်း မြေငှားခကို ပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲ သုံးလပါတ် မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါ အခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင် ပါရှိစေကာမူ ဤစာချုပ်ချုပ်ဆိုသည့် နေ့မှစ၍ ပထမ နှစ်ပေါင်း သုံးဆယ် အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော မြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့်လည်းကောင်း၊ ပြုလုပ်ထားသည့် ပဋိညာဉ်ခံချက်များကို မပျက်မကွက် လိုက်နာဆောင်ရွက်ခဲ့သောကြောင့်လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော သုံးလပါတ် မြေငှားခဖြင့် နောက်ထပ်နှစ်ပေါင်း သုံးဆယ် အတွက်ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်းမြေငှား စာချုပ်အသစ် ချုပ်ဆိုရန်သဘောတူကြောင်း အဆိုပါ ပထမနှစ်ပေါင်း သုံးဆယ် မပြည့်မီ အနည်းဆုံး ( ၆ ) လ ကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့်အကြောင်းကြားရမည်၊ အကြောင်းကြားစာနှင့်အတူ ပထမ မြေငှားစာချုပ်ကို ပေးအပ်လျှင် ထိုအကြောင်းကြားစာ ရရှိသည့်နေ့မှ ( ၆ ) လအတွင်း နောက်နှစ်ပေါင်း သုံးဆယ် အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့် ဖြစ်နိုင်သမျှတူညီသည့် ပဋိညာဉ်ခံချက်များပါရှိသည့် မြေငှားစာချုပ်အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူက ထုတ်ပေးရန်၊ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပါတ်မြေငှားခကို အငှားစာချုပ်ရသူက ပေးဆောင်ရန်။

ဤစာချုပ်ပါ စကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ် နှင့် ညွှန်ကြားရေးမှူး တို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကို ခပ်နှိပ်၍ အဆိုပါ ညွှန်ကြားရေးမှူးချုပ်နှင့် အဆိုပါ..................... ...................................................ဦးတင်လတ်...........သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့် နေ့ရက်တွင် လက်မှတ်ရေးထိုးကြကြောင်း။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည် ~

(က) အထက်၌ မြေငှားခကို ပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်းအဆိုပါမြေငှားခနှင့်အဆိုပါမြေကွက်ပေါ်၌သော်လည်းကောင်း၊ထိုမြေကွက်ပေါ်တွင်ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌ သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌ သော်လည်းကောင်း၊ အဆိုပါ နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ၊ စည်းကြပ်လတ္တံ့ဖြစ်သော အခွန်အတုပ်အားလုံးတို ပေးဆောင်ရန်၊

(ခ) ဤစာချုပ် ချုပ်ဆိုသည့်နေ့မှ (၆) လအတွင်းစတင်ဆောက်လုပ်၍ နှစ် နှစ်အတွင်းတွင် အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော အဆောက်အအုံကို သက်ဆိုင်ရာဥပဒေ ၊ နည်းဥပဒေ ၊ စည်းမျဉ်းစည်းကမ်းချက်များ နှင့် အညီ ပြီးစီးအောင် ဆောက်လုပ်ရန်နှင့် ထိုအဆောက်အအုံသည်တို့ကို အဆိုပါ နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြား အတွင်း ပြုပြင်မွမ်းမံထားရှိရန်၊

(ဂ) အဆိုပါမြေကွက် တည်ရှိသောရပ်ကွက်၌ သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်များနှင့် ရေပိုက်များချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့် တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်၊

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်ကခွင့်ပြုသော အဆောက်အဦနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံ တစ်ခုထက်ပို၍ မဆောက်လုပ်ရန်၊

(င) အငှားချထားသူ၏ စာဖြင့်သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြား အတွင်း အဆိုပါမြေကွက်ကို လူနေအိမ်အဆောက်အအုံအတွက်မှတပါး အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်သည့် အဆောက်အအုံကို လူနေအိမ်အဖြစ်မှတပါး အခြားနည်းအသုံးမပြုရန်၊

(စ) အငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်အပြင် ၎င်းမြေ၏ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများ မပြုလုပ်ရ၊

(ဆ) ဤစာချုပ်နှင့် စပ်လျဉ်း၍ မည်သည့် ကိစ္စအတွက်မဆို အဆိုပါ မြေကွက် သို့ဖြစ်စေ၊ အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်း ခြောက်ဆယ် ကာလအပိုင်းအခြားတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်လျော်သည့်အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်၊

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်း ခြောက်ဆယ် ကာလ အပိုင်းအခြားကုန်ဆုံးသောအခါ အဆိုပါ မြေကွက် တည်ရှိသည့် အဆောက်အအုံနှင့် အဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများ မပါဝင်စေဘဲ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် အငှားချထားသူက အပိုဒ် ( ၂ ) အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်၊

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန



| |
|---|
| ၂၀၁၃ /၁၄ ခုနှစ်သုံး မြေပုံမှ ရေးကူးပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မြေငှားစာချုပ်မြေပုံ |
| အမည်ပေါက်<br>ဦးတင်လတ် |
| မြေတိုင်းရပ်ကွက်အမှတ် = ၁၀ဂ-ဗ |
| လူနေရပ်ကွက်အမှတ် |
| မြေကွက်အမှတ် ၃ |
| မြေအမျိုးအစား ၃၀ နှစ် မြေငှားစာချုပ် |
| အလျား ......၂၅၀' / ၂၅၀' × အနံ ......၂၅၀' / ၃၀၀'<br>ဧရိယာ ၆၄၀၄၆ စ/ပေ ဧက ၁.၄၇၈ |
| စကေး ၁" = ၃၀၀' |
| ထုတ်ပေးသည့်အမှုတွဲအမှတ် |
| (မအောင်ရဲထင်)<br>မြေတိုင်း-၄<br>မြေတိုင်းဌာနခွဲ |
| ၁၂.၁၀.၂၀၁၃ |
| (ဝင်းလှိုင်)<br>ဦးစီးအရာရှိ<br>မြေတိုင်းဌာနခွဲ<br>မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန<br>ဆောက်လုပ်ရေးဝန်ကြီးဌာန |

၂၀၁၃ /၁၄ ခုနှစ်သုံး မြေပုံ/မြို့ မြေစာရင်းမှ ရေးကူးသော ကောက်နုတ်ချက်မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။ (မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန)

# အမည်ပြောင်းလွှဲခြင်းမှတ်တမ်း

တိုင်းဒေသကြီး/ပြည်နယ် -

မြို့နယ် -

မြေတိုင်းရပ်ကွက်အမှတ် -

မြေကွက်အမှတ် -

ဧရိယာ -

မြေအမျိုးအစား -

မြေငှားစာချုပ်အမှတ် -

| အမှုတွဲအမှတ် နှင့် ခွင့်ပြုရက်စွဲ | မြေငှားစာချုပ်အမည်ပေါက် နှင့် နိုင်ငံသားစီစစ်ရေးကဒ်အမှတ် | ပြောင်းလွှဲသည့်စာချုပ် အမှတ်နှင့်ရက်စွဲ (သို့) တရားရုံးဒီကရီနှင့်ရက်စွဲ | ပြောင်းလွှဲခံရသူ (သို့) တရားရုံးဒီကရီရရှိသူ၏အမည် နှင့် နိုင်ငံသားစီစစ်ရေးကဒ်အမှတ် |
|---|---|---|---|
| ၁ | ၂ | ၃ | ၄ |
| | | | |



**Inno Brick Company Limited**
**Rental Charges Calculation**

| | | | |
|---|---|---|---|
| Total Land and Building Area | 3.775 acre | 15,276.897 Sq meter | |
| Building Area ( 100' x 60') | 0.138 acre | 558.467 Sq meter | 6000 Sq feet |
| Land Area | 3.637 acre | 14,718.430 Sq meter | |

**For First to Third Year**

| | | |
|---|---|---|
| Per Year Rental Charges | 426,150,000.00 kyat | |
| Per Year Rental Charges for Per Square Meter | 27,895.064 kyat | 20.511 US$ / per square meter |

**For Fourth to Six Year**

| | | |
|---|---|---|
| Per Year Rental Charges | 468,765,000.00 kyat | |
| Per Year Rental Charges for Per Square Meter | 30,684.570 kyat | 22.562 US$ / per square meter |

**For Seven to Nine Year**

| | | |
|---|---|---|
| Per Year Rental Charges | 468,765,000.00 kyat | |
| Per Year Rental Charges for Per Square Meter | 30,684.570 kyat | 22.562 US$ / per square meter |

**Inno Brick Company Limited**
**Rental Charges Calculation**

| | | | |
|---|---|---|---|
| **Total Land and Building Area** | **3.775 acre** | **15,276.897 Sq meter** | |
| Building Area ( 100' x 60') | **0.138 acre** | **558.467 Sq meter** | 6000 Sq feet |
| Land Area | **3.637 acre** | **14,718.430 Sq meter** | |

**Per Year Rental Charges (Within First to Third Year)**

| | | |
|---|---|---|
| **Per Year Rental Charges** | **142,050,000.00 kyat** | |
| **Per Year Rental Charges for Per Square Meter** | **9,298.355 kyat** | **6.837 US$ / per square meter** |

**Per Year Rental Charges (Within Fourth to Six Year)**

| | | |
|---|---|---|
| **Per Year Rental Charges** | **156,255,000.00 kyat** | |
| **Per Year Rental Charges for Per Square Meter** | **10,228.190 kyat** | **7.521 US$ / per square meter** |

**Per Year Rental Charges (Within Seven to Nine Year)**

| | | |
|---|---|---|
| **Per Year Rental Charges** | **156,255,000.00 kyat** | |
| **Per Year Rental Charges for Per Square Meter** | **10,228.190 kyat** | **7.521 US$ / per square meter** |

# " မြေနှင့် အဆောက်အဦးငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်"

# "Lease Agreement For Land and Building"

ဤသဘောတူစာချုပ်ကို ၂၀၁၇ ခုနှစ်၊ -----လ (    )ရက်နေ့တွင် အောက်ပါပုဂ္ဂိုလ်များအကြားအောက်ပါသဘောတူညီချက်များနှင့်အညီ ပြုလုပ်ချုပ်ဆိုကြပါသည်။

ဦးတင်လတ်၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁၂/ရကန(နိုင်)၀၄၈၂၀၀ ကိုင်ဆောင်ပြီး၊ အမှတ် (၂+၃)၊ အမှတ်(၂)အမြန်လမ်းမကြီး၊ (၁၀၈) ရပ်ကွက်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင်နေထိုင်သူ(နောင်တွင် "အငှားချထားသူ (ပိုင်ရှင်)" ဟုခေါ်ဆိုသည်။ က တစ်ဖက်အဖြစ်

နှင့်

This lease agreement for land and building is executed on (2) October, 2017 by and between U Tin Latt bearing the Citizenship Scrutiny Card No. 12/YaKaNa(Naing)048200 and residing at No. 2+3, No.(2) Express Way, (108) Quarter, Dagon Myothit (East) Township, Yangon Region, the republic of the union of Myanmar (hereinafter referred to as "Lessor") on one part and

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ကုမ္ပဏီများအက်ဥပဒေနှင့်အညီ တည်ထောင်ဖွဲ့စည်းထားသော Inno Brick Co., Ltd.၊ ကုမ္ပဏီမှတ်ပုံတင်အမှတ် (လျှောက်ထားဆဲ)၊ (၎င်းကုမ္ပဏီ၏ အစည်း အဝေးဆုံးဖြတ်ချက်အရ မန်နေဂျင်း (ဒါရိုက်တာ) **Mr.Kim Young Han** Passport No M74968115 က တာဝန်ယူလက်မှတ်ရေးထိုး ချုပ်ဆိုပါသည်။ ) ယင်း၏လိပ်စာမှာအမှတ် (၂+၃)၊ အမှတ် (၂) အမြန်လမ်းမကြီး၊ (၁၀၈) ရပ်ကွက်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်ရုံးတည်ဖွင့်လှစ်သည့်ကုမ္ပဏီဖြစ်ပါသည်။(နောင်တွင် "အငှားချထားခြင်းခံရသူ(ငှားရမ်းသူ)" ဟုခေါ်ဆိုသည်) က အခြားတစ်ဖက်အဖြစ် ချုပ်ဆိုကြခြင်းဖြစ်ပါသည်။

M.D Mr. Kim Young Han bearing the Passport No. M 74968115 (who signed due to the meeting decision of the company) in favour of INNO BRICK Co,Ltd that is incorporated under the Companies Act of the Republic of the Union of Myanmar with the company registration No. (appling) and its legal address of No. (2+3), No.(2) Express Way, (108)

Quarter, Dagon Myothit (East) Township, Yangon Region (hereinafter referred to as "Lessee") on other part.

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ ၁၀၈ ရပ်ကွက်၊ အမှတ် (၂+၃) ၊ အမှတ်(၂) အမြန်လမ်းမကြီး၊ အမှတ် (၂) မြေတိုင်းရပ်ကွက်အမှတ် - ၁၀၈/ဘီ၊ မြေကွက်အမှတ်-၂၊ ဧရိယာ (၁. ၆၁၆) ဧက၊ (၇၀၄၀၀) စတုရန်းပေမြေကွက်ရှိ နှစ် (၆၀) ဂရန်မြေကွက်အပါအဝင် အကျိုးခံစားခွင့်အရပ်ရပ်နှင့် မြေကွက်အမှတ်-၃၊ ဧရိယာ (၂. ၁၅၉)၊ (၉၄၀၄၆) စတုရန်းပေ၊ အလျား (၃၂၀ ပေ/၃၂၀ပေ×အနံ ၂၉၀ပေ/၃၀၀ ပေ) အကျယ်အဝန်းရှိ နှစ် (၆၀) ဂရန်မြေကွက်၊ စုစုပေါင်း ဧရိယာ (၃. ၇၇၅) ဧကမြေကွက်နှင့် ယင်းမြေကွက် ပေါ်တွင် ဆောက်လုပ်ထားသော (၆၀ပေ×၁၀၀ပေ) အကျယ်အဝန်းရှိ အဆောက်အဦးအပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်တို့ကို ဤစာချုပ်ပါ အငှား ချထားသူ(ပိုင်ရှင်) ဦးတင်လတ်က ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (မြို့/ပြ) ဌာနတွင် အမည်ပေါက်အဖြစ် မှတ်သားထားရှိပြီး တရားဝင်ပိုင်ဆိုင်ထားသော ပစ္စည်းဖြစ်ပါသည်။

1. All interests and rights inclusive of (60′ x 100′) building that was erected on the total area of (3.775) acres having 60 year grant, (320 ft/ 320 ft x 290 ft / 300 ft), 94046 ft2 and area (2.159) of the Lot No. (3) and all interests and rights inclusive of 60 year land grant of (70400) ft2, (1.616) acres of the Lot No. (2) of No. (2) the land survey block No. 108/B, No.(2) Express Way, No. (2+3), 108 Quarter, Dagon Myothit (East) Township, Yangon Region are the assets and properties belonging to the title of the Lessor (owner) U Tin Latt at the Yangon City Development Committee's urban department.

၂။ အထက်အပိုဒ် (၁) ပါမြေကွက်(၂)ကွက်အပါအဝင်အကျိုးခံစားခွင့်အရပ်ရပ်နှင့် ယင်းမြေကွက်ပေါ် တွင် ဆောက်လုပ်ထားသည့်Steel Structure(၆၀ပေ×၁၀၀ပေ) အကျယ်အဝန်းရှိ အဆောက်အဦးတို့ကို ဤစာချုပ်ပါ အငှားချထားသူ(ပိုင်ရှင်)ထံမှ အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) ကကွန်ကရစ် ဘလောက်တုံးများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်လုပ်ငန်း လုပ်ကိုင်ရန်အတွက် ငှားရမ်းခွင့်ပြုပါရန် ကမ်းလှမ်းရာ အောက်ပါသဘောတူညီချက်များနှင့်အညီ အငှားချထားသူ (ပိုင်ရှင်)နှင့် အငှားချထားခြင်း ခံရသူ(ငှားရမ်းသူ)တို့က စာချုပ်ပြုလုပ်ချုပ်ဆိုကြပါသည်။

2. Whereas the Lessee (Tenant) requests the Lessor (Owner) to Lease out the (60′ x 100′) Steel structure being erected on this Land and rights and interests inclusive of 2 Land

plots described in the above paragraph (1) to him for the production and distribution of concrete blocks, and the Lessor and Lessee enter into this lease in conformity with the agreements below.

ငှားရမ်းသည့်ပစ္စည်းစာရင်း

**Schedule of the Leased Properties and Assets**

၁။ အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)သည် ကွန်ကရစ်ဘလောက်တုံးများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့်လုပ်ငန်းလုပ်ကိုင်ရန်အတွက်အငှားချထားသူ(ပိုင်ရှင်)ထံမှအောက်ပါပစ္စည်းများကို ငှားရမ်းမှု ကာလ (၉) နှစ်အတွက် ငှားရမ်းကြပါသည်။

1. The Lessee rents the following assets and properties from the Lessor (owner) for the manufacturing of concrete blocks for the tenancy of (9) years.

(၁-၁) ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ (၁၀၈) ရပ်ကွက်၊ အမှတ်(၂) အမြန်လမ်းမကြီး၊ အမှတ်(၂+၃) မြေတိုင်းရပ်ကွက်အမှတ် (၁၀၈/ဘီ)၊ မြေကွက် အမှတ် (၂)၊ ဧရိယာ (၁. ၆၁၆) ဧက၊ (၇၀၄၀၀) စတုရန်းပေမြေကွက်ရှိ နှစ် (၆၀) ဂရန် မြေကွက်အပါအဝင် အကျိုးခံစားခွင့်အရပ်ရပ်နှင့် မြေကွက်အမှတ်-၃၊ ဧရိယာ (၂. ၁၅၉)၊ (၉၄၀၄၆) စတုရန်းပေ၊ အလျား (၃၂၀ပေ/၃၂၀ပေ× အနံ၂၉၀ပေ/ ၃၀၀ပေ) အကျယ် အဝန်းရှိ နှစ် (၆၀) ဂရန်မြေကွက်၊ စုစုပေါင်းဧရိယာ (၃. ၇၇၅) ဧကမြေကွက်အပါအဝင် အကျိုးခံစားခွင့်အရပ်ရပ်။

(1.1) All interests inclusive of 60 year land grant of the (1.616) acres and (70400) ft2, Lot No. (2), No. (2+3), Land Survey Block No. (108/B), No.(2) Express Way, (108) Quarter, Dagon Myothit (East) Township, Yangon Region and all interests inclusive of total area of (3.775) acres, 60 year land grant having the Lot No. (3), area of (2.159), (94046) ft2 and (320 ft/320 ft x 290 ft/ 300 ft).

(၁-၂) အထက်အပိုဒ်(၁၁)တွင်ဖော်ပြထားသောမြေကွက်ပေါ်တွင်ဆောက်လုပ်ထားသော (၆၀ပေ×၁၀၀ပေ) Steel Structureအကျယ်အဝန်းရှိ အဆောက်အဦး(၁)လုံး။

(1.2) (1) building of (60 ft x 100 ft) steel structure being erected on the land plot described in the above sub-paragraph (1-1).

ငှားရမ်းသည့်ကာလသတ်မှတ်ခြင်း
**Term of Lease**

၂။ အငှားချထားသူ (ပိုင်ရှင်) နှင့် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) တို့သည် အထက်အပိုဒ် (၁-၁)၊ (၁-၂)ပါမြေကွက်နှင့် အဆောက်အဦးတို့ကို အောက်ဖော်ပြပါ နှစ်ကာလအတိုင်း ငှားရမ်း ရန် သဘောတူညီပါသည်။

2. The Lessor (Renter) and Lessee (Rentee) agree to lease out and rent the land and buildings described in the above sub-paragraph (1-1) and (1-2) as tenancy described below.

(၂-၁) ဤသဘောတူစာချုပ်၏ ငှားရမ်းကာလသက်တမ်းမှာ (၁-၁-၂၀၁၈) ရက်နေ့မှ (၃၁-၁၂-၂၀၂၆) ရက်နေ့ထိ (၉)နှစ်တာကာလကို စဉ်ဆက်မပြတ်ငှားရမ်းရန် သဘော တူညီကြပါသည်။

(2.1) The consecutive tenancy of this lease agreement is (9) year from (1.1.2018) to (31.12.2026).

(၂-၂) ငှားရမ်းမှုကာလကို အထက်အပိုဒ် (၂-၁) ပါအတိုင်း သဘောတူညီထား သော်လည်း အငှားချထားခြင်းခံရသူ(ငှားရမ်းသူ)ကမိမိငှားရမ်းထားသည့်မြေနှင့်အဆောက်အဦးတို့တွင် ပြင်ဆင်မှုများ၊ စက်ပစ္စည်းတပ်ဆင်မှုများပြုလုပ်ဆောင်ရွက်ရန်အတွက် ဤစာချုပ် ချုပ်ဆို ပြီးနောက် ၂၀၁၇-ခုနှစ် (အောက်တိုဘာလ/ နိုဝင်ဘာလ/ ဒီဇင်ဘာလ) စုစုပေါင်း (၃)လ ကိုပြင်ဆင်မှုကာလအဖြစ်သတ်မှတ်ရန်အခမဲ့ နှစ်ဦးနှစ်ဘက်သဘောတူညီကြပါသည်။

(2.2) Both parties agree for free that, although the tenancy was agreed as described in the above sub-paragraph (2.1), the total 3-months (October/ November/ December) 2017 after signing this lease agreement will be recognized as the preparatory period for the Lessee to renovate the rented buildings, to rectify the land and to install the machines and equipments.

(၂-၃) ထိုသို့အပိုဒ်(၂-၁)ပါ ငှားရမ်းမှုကာလ(၉)နှစ်ငှားရမ်းပြီးနောက် အငှားချထားသူ(ပိုင်ရှင်) ဘက်မှငှားရမ်းမှုအား ဆက်လက်ငှားရမ်းလိုလျှင်သော်လည်းကောင်း၊ မငှားရမ်းလိုဘဲရပ်စဲ လျှင်သော်လည်းကောင်း၊ အငှားချထားခြင်းခံရသူ(ငှားရမ်းသူ) ဘက်မှ

ဆက်လက်ငှားရမ်း လိုလျှင်သော်လည်းကောင်း၊ မငှားရမ်းလိုလျှင်သော်လည်းကောင်း၊ လပေါင်း(၆)လ ကြိုတင်၍ စာဖြင့်အကြောင်းကြားရန် နှစ်ဦးနှစ်ဘက်သဘော တူညီကြပါသည်။

(2.3) Both parts agree to send notices to each other ahead of 6-months if either the Lessor or Lessee want the lease-out and rent onward or to be terminated after the expiration of (9) years being described in the sub-paragraph (2.1).

ငှားရမ်းခများသတ်မှတ်ခြင်း

**Rentals**

၃။ အငှားချထားသူ (ပိုင်ရှင်) နှင့် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) တို့သည် အောက်ပါအတိုင်းသဘောတူညီကြပါသည်။

3. **The Lessor and Lessee agree as below.**

(၃-၁) ငှားရမ်းမှုကာလ(၉)နှစ်သက်တမ်းအနက် ပထမနှစ်၊ ဒုတိယနှစ်နှင့် တတိယနှစ် သက်တမ်း တို့အတွက် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)က အငှားချထားသူ (ပိုင်ရှင်)သို့ (၁)လလျှင် ငွေ ၁၁၈၃၇၅၀၀ိ/- (ကျပ်သိန်းတစ်ရာတစ်ဆယ့်ရှစ်သိန်း သုံးသောင်း ခုနှစ်ထောင့်ငါးရာတိတိ) နှုန်းဖြင့် (၃) နှစ်စာအတွက်ငွေ ၄၂၆၁၅၀၀၀၀ိ/-(ကျပ်သိန်း လေးထောင့် နှစ်ရာခြောက်ဆယ့်တစ်သိန်း ငါးသောင်း တိတိ) နှုန်းဖြင့် ပေးချေရန်သဘော တူညီကြပါသည်။ (နောင်တွင် "ငှားရမ်းမှုကာလ ပထမသက်တမ်း" ဟုခေါ်ဆိုသည်။)

(3.1) The Lessee agrees to pay Ks. 426150000/- (Four Thousand Two Hundred Sixty One Lakhs and Fifty Thousands Kyats) for 3 years with the monthly rental rate of Ks. 11837500/- (One Hundred and eighteen Lakhs Thirty Seven Thousand and Five Hundred Kyats) to the Lessor for $1^{st}$, $2^{nd}$ and $3^{rd}$ years out of the 9 years of tenancy period. (hereinafter referred to as "first term of lease period")

(၃-၂) အထက်အပိုဒ် (၃-၁)ပါ (၃) နှစ်စာ ငှားရမ်းခကျသင့်ငွေ ၄၂၆၁၅၀၀၀၀ိ/-(ကျပ်သိန်း လေးထောင့်နှစ်ရာခြောက်ဆယ့်တစ်သိန်းငါးသောင်းတိတိ) အပေါ်အငှားချထားခြင်း

ခံရသူ (ငှားရမ်းသူ)က ဤစာချုပ်ချုပ်ဆိုသည့်ရက်နေ့တွင် ယင်း (၃) နှစ်စာ၏ (၁၀) ရာခိုင်နှုန်းဖြစ်သော ၄၂၆၁၅၀၀၀ိ/- (ကျပ်သိန်းလေးရာ နှစ်ဆယ့်ခြောက်သိန်း တစ်သောင်းငါးထောင်တိတိ) ကိုအငှားချထားသူ (ပိုင်ရှင်) ထံသို့ပေးချေရာ ယင်းငွေကို အငှားချထားသူ (ပိုင်ရှင်) မှ လက်ခံရရှိပါသည်။

(3.2) On the signing date of this lease agreement the Lessee pays the Ks. 42615000/- (Four Hundred and Twenty Six Lakhs and Fifteen Thousands Kyats) that is the 10% of the Ks. 426150000/- (Four Thousand Two Hundred Sixty One Lakhs and Fifty Thousands Kyats) for the tenancy of 3 years described in the above sub-paragraph (3.1) to the Lessor and the Lessor acknowledges the receipt of this money.

(၃-၃) ပထမနှစ်၊ ဒုတိယနှစ်၊ တတိယနှစ်သက်တမ်းတို့အတွက် ငှားရမ်းခ ကျန်ငွေ ၃၈၃၅၃၅၀၀၀ိ/(ကျပ်သိန်းသုံးထောင့်ရှစ်ရာသုံးဆယ့်ငါးသိန်းသုံးသောင်းငါးထောင်တိတိ)ကို (၁-၁-၂၀၁၈) ရက်နေ့တွင် ပေးချေရန်နှစ်ဦးနှစ်ဘက်သဘောတူညီကြပါသည်။

(3.3) Bothe parts agree to pay the Ks. 383535000/- (Three Thousand Eight Hundred Thirty Five Lakhs and Thirty Five Thousands Kyats) being remained and left for 1$^{st}$, 2$^{nd}$ and 3$^{rd}$ year, on (1.1.2018).

(၃-၄) ငှားရမ်းမှုကာလ (၉) နှစ်သက်တမ်းအနက် စတုတ္ထနှစ်၊ ပဉ္စမနှစ်နှင့် ဆဋ္ဌမနှစ် စုစုပေါင်း (၃) နှစ်အတွက် ငှားရမ်းခမှာ ပထမနှစ်၊ ဒုတိယနှစ်နှင့် တတိယနှစ်သက်တမ်း ငှားရမ်းခငွေအပေါ် (၁၀) ရာခိုင်နှုန်းတိုးမြှင့်၍ (၁)လလျှင် ငှားရမ်းခငွေ ၁၃၀၂၁၂၅၀ိ/- (ကျပ်သိန်း တစ်ရာ့သုံးဆယ်နှစ်သောင်းတစ်ထောင့်နှစ်ရာ့ငါးဆယ်တိတိ) နှုန်းဖြင့် (၃) နှစ်စာငှားရမ်းခစုစုပေါင်းငွေ ၄၆၈၇၆၅၀၀၀ိ/- (ကျပ်သိန်းလေးထောင့်ခြောက်ရာ ရှစ်ဆယ်ခုနှစ်သိန်းခြောက်သောင်းငါးထောင်တိတိ) ကို အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)က အငှားချထားသူ (ပိုင်ရှင်) သို့ ပထမငှားရမ်းမှု ကာလမကုန်ဆုံးမီ / ဒုတိယငှားရမ်းမှုကာလမတိုင်မီရက်သတ္တပါတ် (၂) ပါတ်အလိုတွင် မပျက်မကွက်ပေးချေ ရန် သဘောတူညီပါသည်။
(နောင်တွင် “ငှားရမ်းမှုကာလဒုတိယသက်တမ်း” ဟု ခေါ်ဆိုသည်။)

(3.4) The Lessee agrees to pay the total rental of Ks. 468765000/- (Four Thousand Six Hundred Eighty Seven Lakhs and Sixty Five Thousands Kyats) for 3 years with the monthly rental rate of Ks. 13021250/- (One Hundred Thirty Lakhs Twenty One Thousands Two Hundred and Fifty Kyats) to the Lessor ahead of 2 weeks before the expiration of first lease term and before the 2nd term, by increasing 10% on the rental for 1st, 2nd and 3rd years, for total 3-years of 4th, 5th and 6th years out of the 9-years tenancy term. (hereinafter referred to as 2nd term of lease period)

(၃-၅) ငှားရမ်းမှုကာလ (၉) နှစ် သက်တမ်းအနက် သတ္တမနှစ်၊ အဌမနှစ်နှင့် နဝမနှစ် စုစုပေါင်း (၃) နှစ်အတွက် ငှားရမ်းခမှာ ဒုတိယသက်တမ်း(၃)နှစ်ကာလအတိုင်း (၁)လလျှင် ငှားရမ်းခ ငွေကျပ် ၁၃၀၂၁၂၅၀/- (ကျပ်တစ်ရာ့သုံးဆယ့်နှစ်သောင်း တစ်ထောင့်နှစ်ရာ့ ငါးဆယ်တိတိ) နှုန်းဖြင့် (၃) နှစ်စာငှားရမ်းခစုစုပေါင်းငွေကျပ် ၄၆၈၇၆၅၀၀၀/-
(ကျပ်သိန်းလေးထောင့်ခြောက်ရာရှစ်ဆယ့်ခုနှစ်သိန်းခြောက်သောင်းငါးထောင်တိတိ) ကို အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)က အငှားချထားသူ (ပိုင်ရှင်) သို့ ဒုတိယငှားရမ်းမှု ကာလမကုန်ဆုံးမီ/ တတိယငှားရမ်းမှုကာလမတိုင်မီရက် သတ္တပါတ် (၂) ပါတ်အလိုတွင် မပျက်မကွက်ပေးချေရန် သဘောတူညီပါသည်။
(နောင်တွင် “ငှားရမ်းမှုကာလတတိယသက်တမ်း” ဟုခေါ်ဆိုသည်။)

(3.5) The Lessee agrees to pay the total rental of Ks. 468765000/- ((Four Thousand Six Hundred Eighty Seven Lakhs and Sixty Five Thousands Kyats) for 3-years to the Lessor ahead of 2-weeks without fail before the expiration of 2nd lease and before 3rd lease term, with the monthly rental rate of Ks. 13021250/- (One Hundred Thirty Lakhs Twenty One Thousands Two Hundreds and Fifty Kyats) for 3 years of 7th, 8th and 9th years out of the 9-year tenancy, as the rental of 2nd 3-year lease term. (hereinafter referred to as "3rd term of Lease Period")

(၃-၆) ငှားရမ်းမှုကာလ (၉)နှစ်သက်တမ်းအတွက် အထက်အပိုဒ်(၃-၄) (၃-၅)ပါ သဘောတူညီ ချက်အတိုင်း ငှားရမ်းခများပေးချေရာတွင်အငှားချထားသူ(ပိုင်ရှင်)နှင့်အငှားချထားခြင်း ခံရသူ (ငှားရမ်းသူ)တို့သည်နိုင်ငံတော်သတ်မှတ်ပြဋ္ဌာန်းထားသောအခွန်တံဆိပ်ခေါင်း၌ ရေးသားကာ စာချုပ်ချုပ်ဆိုပေးအပ်ရန် နှစ်ဘက်သဘောတူညီကြပါသည်။

(3.6) The Lessor and Lessee agree to pay the rental inclusive in the above sub-paragraph (3-4) (3-5) for 9-year tenancy by signing the revenue stamp being imposed by the state.

(၃-၇) ငှားရမ်းသက်တမ်း(၉)နှစ်ကုန်ဆုံး၍ ထပ်မံငှားရမ်းလိုပါကအငှားချထားသူ(ပိုင်ရှင်)နှင့် အငှားချထားခြင်းခံရသူ(ငှားရမ်းသူ)တို့ နှစ်ဦးနှစ်ဖက် (၆)လ ကြိုတင်ညှိနှိုင်း ဆောင်ရွက် သွားပါမည်။ (၃) နှစ်ငှားရမ်းပြီးတိုင်း ဆက်လက်ငှားရမ်းခြင်း၊ မငှားရမ်းခြင်းအား အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) နှင့် အငှားချထားသူ (ပိုင်ရှင်) တို့ နှစ်ဦးနှစ်ဖက် (၃)လကြိုတင်အကြောင်းကြားပေးရမည်ဖြစ်သည်၊ သို့သော်ငှားရမ်းခ တိုးမြှင့်တောင်းခံ ခြင်း မရှိစေရပါ။

(3.7) If the lease agreement is wanted to continue on ward after the expiration of 9-years, the Lessor and Lessee shall negotiate 6-months ahead. Both parts shall notify each other 3-months ahead, on whether continue or discontinue after the end of every 3-year lease term. But, the rental shall not be increased or overcharged.

**၄။ ခွင့်ပြုမိန့်များ၊ပါမစ်များ၊ လိုင်စင်များလျှောက်ထားခြင်း**

**4. Application for permission Orders, Permits and License**

အငှားချထားသူ (ပိုင်ရှင်) နှင့် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)တို့သည် အောက်ပါအတိုင်း သဘောတူညီကြပါသည်၊

The Lessor and Lessee agree as below.

(၄-၁) အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)သည် ဤသဘောတူစာချုပ်ကို ချုပ်ဆိုသည့်နေ့မှစ၍ ကွန်ကရစ်ဘလောက်တုံးများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းအစပြုအကောင် အထည်ဖေါ်ဆောင်ရွက်နိုင်ရန်အတွက် မိမိ၏ကုန်ကျစရိတ်ဖြင့် ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီ၊ သက်ဆိုင်ရာပြည်ထောင်စုဝန်ကြီးဌာနများ၊ တိုင်း၊ ခရိုင်၊ မြို့နယ်ရှိ ဒေသန္တရအာဏာပိုင် အဖွဲ့အစည်းများတို့တွင် လိုအပ်သည့်လိုင်စင်များ၊ ခွင့်ပြုမိန့်များ၊ ပါမစ်များတို့ကို ဂရုတစိုက် လျှောက်ထားရယူရမည်ဖြစ်ပါသည်။

(4.1) The Lessee (Rentee) shall make applications for needed licenses, permission orders, permits at the Yangon City Development Committee, Relevant Union Ministries, Regional, District, Township administrations in his own accounts for the production and distribution of concrete blocks starting from the signing date of this lease agreement.

(၄-၂) ထို့ပြင် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)သည် ဤစာချုပ်ပါလုပ်ငန်းနှင့် ပတ်သက်၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးသို့ ဂရုတစိုက်လျှောက်ထားရမည်ဖြစ်ပါသည်။ (MIC) ထံသို့ ပါမစ်များလျှောက်ထားရာတွင် ကုန်ကျစရိတ်များကို အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)မှ ကျခံရမည့်အပြင် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)မှ ခွင့်ပြုမိန့် ရရှိနိုင်ရန် ကိုယ်တိုင်ဆောင်ရွက်ရမည်။

(4.2) Then the lessee (tenant) will apply carefully to Myanmar Investment Commission Office related with the business mentioned in this deed. Expenses will be paid by lessee (tenant) in applying permit to MIC and it will do itself to get permission from lessee (tenant).

(၄-၃) ထိုသို့ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးသို့ ငှားရမ်းသူကလျှောက်ထားရာတွင် အငှားချ ထားသူ (ပိုင်ရှင်)ဘက်မှ လိုအပ်သော စာရွက်စာတမ်းများတို့ကို လည်းကောင်း၊ လိုအပ် သည့်အချိန်များတွင် လူကိုယ်တိုင် လိုက်လံဆောင်ရွက်ခြင်း ဖြင့်လည်းကောင်း ပြုလုပ်ပေး မည်ဖြစ်ပါသည်။

(4.3) In applying to Myanmar Investment Commission by tenant, the lessor (owner) will perform necessary documents and in person as necessary.

၅။ လုပ်ငန်းလိုအပ်ချက်အရ အဆောက်အဦးသစ်ဆောက်လုပ်ခြင်းလုပ်ငန်း

5. **Construction new building under business essential**

(၅-၁) ဤစာချုပ်၏အပိုဒ်(၁-၁)တွင် ဖော်ပြပါရှိသော မြေကွက်ပေါ်၌ အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)က လုပ်ငန်းလိုအပ်ချက်အရ ၎င်းနေရာတွင် အဆောက်အဦးအသစ် ဆောက်လုပ်ရန်အတွက်လိုအပ်လာပါက အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) က ရန်ကုန် မြို့တော်စည်ပင်သာယာရေးကော်မတီ (ယာ/အုံ) ဌာန၏ခွင့်ပြုချက်နှင့်အညီ ဆောက်မိန့် ကို တရားဝင်လျှောက်ထားရယူ၍ သတ်မှတ်ထားသည့် (BQ)ပုံစံပါ အကျယ်အဝန်း အတိုင်းအတာအတိုင်း ဆောက်လုပ်ရန်သဘောတူညီကြပါသည်၊

(5.1) If the lessee (tenant) is necessary to construct new building in that place under business essential on the land plot mentioned in para (1.1) of this deed, the lessee (tenant) agree to construct under the area, measurement mentioned in specific form, legally applied construction permit according to the permit of Yangon City Development Committee (Engineer / building) department.

(၅-၂) အထက်အပိုဒ်(၅-၁)ပါ သဘောတူညီချက်အတိုင်း အငှားချထားခြင်းခံရသူ(ငှားရမ်းသူ) က အဆောက်အဦးသစ်ဆောက်လုပ်ရန် လိုအပ်လာပါက အငှားချထားသူ (ပိုင်ရှင်)ထံ ဆောက်လုပ်လိုသည့်အဆောက်အဦးပုံစံ၊ တွက်ချက်ထားသော ကုန်ကျစရိတ်တို့ကို ကနဦး တင်ပြ၍ သဘောတူညီချက်ရရှိပြီးနောက် ဤစာချုပ်ပါ အငှားချထားသူ (ပိုင်ရှင်) က ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (ယာ/အုံ)ဌာနသို့ လိုအပ်သည့် စာရွက် စာတမ်းများပြသခြင်း၊ လူကိုယ်တိုင်လိုက်လံခြင်း၊ လက်မှတ်ရေးထိုးဆောင်ရွက်ခြင်းတို့ကို ဆောင်ရွက်ပေးရန်နှင့် ကုန်ကျစရိတ်များကို အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) ဘက်မှ ကျခံရန် သဘောတူညီကြပါသည်။

(5.2) If the lessee (tenant) is necessary to construct new building according to the agreement mentioned in above para (5.1), building form / calculated

expenses will be presented to lessor (owner) initially, after having agreement, the lessor (owner) of this deed will perform showing necessary documents to Yangon City Development Committee (Engineer / building), signing in person and expenses will be costed by lessee (tenant).

၆။ ငှားရမ်းမှုကာလစတင်ခြင်းနှင့် လုပ်ငန်းစတင်ခြင်း

**6. Commencement of lease and commencement of business**

(၆-၁) ဤစာချုပ်ပါငှားရမ်းသည့်လုပ်ငန်းစတင်ခြင်းကို အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) က ငှားရမ်း ကာလ(၉)နှစ်အနက် ပထမနှစ်၊ ဒုတိယနှစ်၊ တတိယနှစ်သက်တမ်းတို့အတွက် ငှားရမ်းခကျန်ငွေကို အပြေအကြေပေးချေသည့်(၁-၁-၂၀၁၈) ရက်နေ့တွင် စတင်ကြောင်း နှစ်ဘက်သဘောတူညီပါသည်။

(6.1) Both parties agree to commence on (1-1-2018) fully paid of rent for first year, second year, third year among leased period (9) years by lessee (tenant) for commencement of leased period.

(၆-၂) အဆိုပါငှားရမ်းမှုကာလတွင် အငှားချထားခြင်းခံရသူ (ငှားရမ်းသူ)က ငှားရမ်းသည့်နေရာ၌ ပြင်ဆင်ခြင်း၊ မွမ်းမံခြင်းလုပ်ငန်းပြုလုပ်ဆောင်ရွက်သည့် (၃)လတာကာလ ပါဝင်ခြင်း မရှိပါ။

(6.2) Renovation / repair period (3) months in that leased place by the lessee (tenant) is not included in the said leased period.

(၆-၃) အထက်အပိုဒ် (၆-၁) ပါအတိုင်း စတင်ဆောင်ရွက်သည့် (၁-၁-၂၀၁၈) ရက်နေ့မှစ၍ အငှားချထားခြင်းခံရသူ(ငှားရမ်းသူ)ကလုပ်ငန်းစတင်ဆောင်ရွက်သည်ဟုနှစ်ဦးနှစ်ဘက် သိရှိသဘောတူညီပါသည်။

(6.3) Both parties agree that the lessee (tenant) commence the business from (1-1-2018) mentioned in above para (6.1).

၇။ အငှားချထားခြင်းခံရသူ (ငှားရမ်းသူ) သည် အောက်ပါအတိုင်း အငှားချထားသူ (ပိုင်ရှင်) နှင့် သဘောတူညီချက်

**7. The agreement between the lessee (tenant) and lessor (owner) as follows**

